ကုမ္ပဏီအမည် - Great Timber World Co., Ltd.( ဂရိတ်(ထ်) တင်း(မ်) ဘား ဝါး (လ်ဒ်) ကုမ္ပဏီလီမိတက်)

လုပ်ငန်း: - နိုင်ငံတကာအဆင့်မီ သစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသား မျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၉-၉-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | | | |
| | (ပထမအကြိမ်) | ၁၈-၉-၂၀၁၅ | ၁၅-၁၀၂၀၁၅ | |
| | (ဒုတိယအကြိမ်) | ၁-၉-၂၀၁၅ | | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | | | |
| | (ပထမအကြိမ်) | ၁၈-၉-၂၀၁၅ | ၇-၁၀-၂၀၁၅ | |
| | (ဒုတိယအကြိမ်) | ၁-၁၀-၂၀၁၅ | | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၁၈-၉-၂၀၁၅<br>၁-၁၀-၂၀၁၅ | ၃၀-၉-၂၀၁၅ | |
| ၃ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၃/၂၀၁၅) သို့ တင်ပြခြင်း | ၁၄-၉-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းပြန်ကြားခြင်း | ၁-၁၀-၂၀၁၅ | | |
| ၅ | PAT အစည်းအဝေး ဆုံးဖြတ်ချက် အကြောင်းကြားခြင်း | - | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၂၆-၁၀-၂၀၁၅ | | |
| ၇ | အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ရက် | ၅၇ ရက် | | |

ကုမ္ပဏီအမည် - Great Timber World Co., Ltd.( ဂရိတ်(ထ်) တင်း(မ်) ဘား ဝါး (လ်ဒ်) ကုမ္ပဏီလီမိတက်)

အဖွဲ့အစည်းပုံသဏ္ဍာန် - ရာနိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ သစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသား မျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် ၁၉၈/၁၆၊ မြေတိုင်းရပ်ကွက်အမှတ် စက်မှုဇုန် (၁) ဒဂုံ (ဆိပ်ကမ်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၈၁၂) ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု- ကျပ် ၇၀၂.၀၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၁၀နှစ်နှင့် သက်တမ်းတိုး၅ နှစ် ၂ ကြိမ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၀၀၄ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၈၃.၇၅ | ၃၅၅.၁၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ၇၀၃၂.၃၄ | ၁၈၆၄၂.၁၂ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂၇၅.၄၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း (၅)ဦး |
| ၈ | CSR (၂%) | | ၁၂.၂၈ |
| ၉ | မြေငှားရမ်းခ | | ၈၄.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၆၉ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၇၁၁၈.၀၉ | ၁၉၃၄၆.၁၅ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ Great Timber World Co., Ltd.( ဂရိတ်(ထ်) တင်း(မ်) ဘား ဝါး (လ်ဒ်) ကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံတကာ အဆင့်မီ သစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသားမျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Great Timber World Co., Ltd. (ဂရိတ်(ထ်) တင်း(မ်) ဘားဝါး (လ်ဒ်) ကုမ္ပဏီလီမိတက်)<br>- ဦးမောင်မောင်ခင် (အဘ-ဦးမောင်မောင်) (မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ သစ်စက်တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသားမျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် ၁၉၈/၁၆၊ မြေတိုင်း ရပ်ကွက်အမှတ် စက်မှုဇုန် (၁) ဒဂုံ (ဆိပ်ကမ်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေနှင့် အဆောက်အဦ အကျယ်အဝန်း | - စုစုပေါင်း (၁.၈၁၂) ဧက |
| ၃။ | မြေ နှင့် အဆောက်အဦ ငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁၂.၀၀ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - ကျပ် ၇၀၂.၀၀ သန်း(US$ ၀.၃၅၂သန်း အပါအဝင်) |

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေပမာဏ | ၁၇၄.၂၂ | ၀.၃၂၅ | ၅၆၄.၂၂ |
| စက်ပစ္စည်း | - | ၀.၀၂၇ | ၃၂.၂၃ |
| အဆောက်အအုံ | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၅.၅၅ | - | ၅.၅၅ |
| စုစုပေါင်း | ၂၇၉.၇၇ | ၀.၃၅၂ | ၇၀၂.၀၀ |

| | | |
|---|---|---|
| ၆။ | ပြည်ပမှအခွန်အကောက်ကင်း လွတ်ခွင့်ဖြင့်တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။ |
| ၇။ | ရောင်းချမည့် နည်းစနစ် | - ပြည်ပ ၉၀%၊ ပြည်တွင်း ၁၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်)<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၈၂၂၉.၆၇ သန်း<br>- ကျပ် ၈၀၇၇.၄၅ သန်း<br>- ကျပ် ၁၅၂.၂၂ သန်း |
| ၉။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - (၆၉) ဦး<br>(ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၄၀၀,၀၀၀ဖြစ်ပါသည်။ |
| ၁၀။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် | (see table below) |

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Cu /Ton) | ရောင်းချမည့်နည်းစနစ် | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|---|
| | | | ပြည်ပ ၉၀% | ပြည်တွင်း ၁၀% | ပြည်ပ US$/Cu Ton | ပြည်တွင်း Kyat/Cu Ton |
| (က) | Teak/ Scantling | ၂၆၂.၀၀ | ၂၃၆.၀၀ | ၂၆.၀၀ | ၁၈၉၀.၀၀ | ၁၆၀၆၅၀၀.၀၀ |
| (ခ) | Teak/ Plank& Fitches | ၁၃၈၄.၆၀ | ၁၂၄၆.၀၀ | ၁၃၈.၄၆ | ၃၆၇၅.၀၀ | ၃၁၂၃၇၅.၀၀ |
| (ဂ) | Hardwood /Scantling | ၁၃၁.၀၀ | ၁၁၈.၀၀ | ၁၃.၁၀ | ၁၀၄၀.၀၀ | ၈၈၄၀၀၀.၀၀ |
| (ဃ) | Hardwood /Plank & Fitches | ၆၉၂.၃၀ | ၆၂၃.၀၀ | ၆၉.၂၃ | ၁၉၄၂.၀၀ | ၁၆၅၀၇၀၀.၀၀ |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၅၀.၇၄ သန်း<br>- ကျပ် ၂၆၆၃.၁၆ သန်း |
| ၁၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆၀၀၀၀၀ Kwh |

| | | |
|---|---|---|
| ၁၃။ | စိစစ်တွေ့ရှိချက် | - မြေနှင့် အဆောက်အဦပိုင်ရှင် ဦးအောင်ထွန်းလင်း နှင့် မြေငှားရမ်းသူ မန်နေဂျင်းဒါရိုက်တာ ဦးမောင်မောင်ခင် (Great Timber World Co., Ltd. ကိုယ်စား) တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ် (မူကြမ်း) တင်ပြ ထားပါသည်။<br>- ကုမ္ပဏီ ဖွဲ့စည်းမှတ်ပုံတင်ထားကြောင်း အထောက်အထား၊ သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်း တို့ကို တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် မန်နေဂျင်း ဒါရိုက်တာ ဦးမောင်မောင်ခင် အမည်ဖြင့် Myanma Apex ဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၂၁၀,၀၀၀,၀၀၀ ရှိကြောင်း၊ ဒါရိုက်တာ ဦးမောင်ကလေး အမည် ဖြင့် ရိုးမဘဏ်၌ ၂၂-၆-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၃၉,၁၉၈,၂၀၈.၀၀ ရှိကြောင်း နှင့် ကမ္ဘောဇဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန်ကျပ် ၅၀,၁၁၄,၂၅၆.၃၀ ရှိကြောင်း၊ ဒါရိုက်တာ ဦးချစ်လှိုင် အမည်ဖြင့် Myanma Apex ဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၂၁၀,၀၅၈,၄၆၁.၂၈ရှိကြောင်း တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US $ = 1200 ကျပ်ဖြင့် တွက်ချက် တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ပုဂ္ဂလိက ကိုယ်ပိုင် သစ်တောစိုက်ခင်း ဧက (၅၀၀၀) စိုက်ပျိုးနိုင်ရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ဝန်ကြီးဌာနသို့ လျှောက်ထားဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ (၂၀) အရ ခံစားခွင့်ရှိသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုပါရန် လျှောက်ထားစာ တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန၏ သဘောထား မှတ်ချက်နှင့်အညီ IEE နှင့် EMP တို့ကို ရေးဆွဲ တင်ပြ သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် လုပ်ငန်း စီမံချက် တင်ပြထားပါသည်။. |

ကန့်သတ်

၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/မ-၂၂၁/၂၀၁၅ ( ၈၁၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Great Timber World Co., Ltd. ဂရိတ်(ထ်) တင်း(မ်) ဘား ဝါး (လ်ဒ်) ကုမ္ပဏီ လီမိတက်) မှ နိုင်ငံတကာ အဆင့်မီ သစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသား မျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Great Timber World Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံ (ဆိပ်ကမ်း) မြို့နယ်၊ မြေကွက်အမှတ် ၁၉၈/၁၆၊ မြေတိုင်းရပ်ကွက်အမှတ် စက်မှုဇုန် (၁) ရှိ မြေ (၁.၈၁၂) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်းကာ နိုင်ငံတကာအဆင့်မီ သစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့် သစ်ခွဲသားမျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်ခင် (အဘ-ဦးမောင်မောင်)မှ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၁၀ နှစ်နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၁၀ နှစ်နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပါသည်။ နှစ်စဉ် မြေနှင့် အဆောက်အဦငှားရမ်းခမှာ ၁.၈၁၂ ဧက အတွက် တစ်နှစ်လျှင် ကျပ် ၁၂.၀၀ သန်း ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာ လျှင် ကျပ် ၈၅၇.၉၀ နှုန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၇၀၂.၀၀ သန်း ဖြစ်ပြီး အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၁၇၄.၂၂ | ၀.၃၂၅ | ၅၆၄.၂၂ |
| (ခ) | စက်ပစ္စည်း | - | ၀.၀၂၇ | ၃၂.၂၃ |

ကန့်သတ်

| | | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (ဂ) | အခဆောက်အအုံ | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၅.၅၅ | - | ၅.၅၅ |
| | စုစုပေါင်း | ၂၇၉.၇၇ | ၀.၃၅၂ | ၇၀၂.၀၀ |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၆၉ ဦး ခန့်ထားမည်ဖြစ်ပါသည်။ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောထုတ်ကုန်များကို ၁၀၀ % ပြည်ပသို့ တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Cu /Ton) | ရောင်းချမည့် နည်းစနစ် | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|---|---|
| | | | ပြည်ပ ၉၀% | ပြည်တွင်း ၁၀% | ပြည်ပ US$/Cu/Ton | ပြည်တွင်း Kyat/ Cu/Ton |
| (က) | Teak/ Scantling | ၂၆၂.၀၀ | ၂၃၆.၀၀ | ၂၆.၀၀ | ၁၈၉၀.၀၀ | ၁၆၀၆၅၀၀.၀၀ |
| (ခ) | Teak/ Plank& Fitches | ၁၃၈၄.၆၀ | ၁၂၄၆.၀၀ | ၁၃၈.၄၆ | ၃၆၇၅.၀၀ | ၃၁၂၃၇၅.၀၀ |
| (ဂ) | Hardwood/ Scantling | ၁၃၁.၀၀ | ၁၁၈.၀၀ | ၁၃.၁၀ | ၁၀၄၀.၀၀ | ၈၈၄၀၀၀.၀၀ |
| (ဃ) | Hardwood/ Plank & Fitches | ၆၉၂.၃၀ | ၆၂၃.၀၀ | ၆၉.၂၃ | ၁၉၄၂.၀၀ | ၁၆၅၀၇၀၀.၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့်တွက်ချက်ထားပါသည်-

(က) ဝင်ငွေ - ကျပ် ၈၂၂၉.၆၇ သန်း

(ခ) အသုံး စရိတ် - ကျပ် ၈၀၇၇.၄၅ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၁၅၂.၂၂ သန်း

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅၀.၇၄ သန်းရရှိမည်ဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၆၆၃.၁၆ သန်းရရှိမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၄လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၂၂.၇၅ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်စနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာတင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက်

သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုအပ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။

**(ကုမ္ပဏီမှ IEE နှင့် EMP ရေးဆွဲရေးနှင့် ပုဂ္ဂလိကသစ်စိုက်ခင်း တည်ထောင်ရေးအတွက် ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)**

**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာ ဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေးအထောက်အထားအဖြစ် မန်နေဂျင်း ဒါရိုက်တာ ဦးမောင်မောင်ခင် အမည်ဖြင့် Myanma Apex ဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၂၁၀,၀၀၀,၀၀၀ ရှိကြောင်း၊ ဒါရိုက်တာ ဦးမောင်ကလေး အမည်ဖြင့် ရိုးမ ဘဏ်၌ ၂၂-၆-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၃၉,၁၉၈,၂၀၈.၀၀ ရှိကြောင်း နှင့် ကမ္ဘောဇ ဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၅၀,၁၁၄,၂၅၆.၃၀ ရှိကြောင်း၊ ဒါရိုက်တာ ဦးချစ်လှိုင်အမည်ဖြင့် Myanma Apex ဘဏ်၌ ၂၇-၇-၂၀၁၅ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၂၁၀,၀၅၈,၄၆၁.၂၈ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ Great Timber World Co., Ltd. သည် ကုမ္ပဏီ မှတ်ပုံတင် အမှတ်-၁၀၈၈/၂၀၁၅-၂၀၁၆(၆-၇-၂၀၁၅)ဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို တင်ပြထားပါသည်။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသား၃ ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး၊ မည်သည့် နိုင်ငံခြားသားမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မီးဘေး ကြိုတင် ကာကွယ်မှုအတွက် အလုပ်ရုံပတ်လည်တွင် မီးသတ်ရေပိုက်လိုင်းများ တပ်ဆင်သွားမည်ဖြစ်ပြီး ပေ ၅၀ အကွာအဝေးတိုင်းတွင် ရေပိုက်ခေါင်းများ ထားရှိသွားမည်ဖြစ်ကြောင်း၊ မီးသတ်ဦးစီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ မီးသတ်ဆေးဗူးများ အလုံအလောက်ထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်

များကိုလည်း အမြိုက်ကန်တည်ဆောက်၍ စနစ်တကျ သိမ်းဆည်းထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအတွက် ရက်မှန်ကြေး၊ ရက်ပိုကြေး၊ နှစ်သစ်ကူးကာလများအတွက် နှစ်သစ်ကူးအပိုဆုကြေးနှင့် ၎င်းရက်များအတွင်း ဝန်ထမ်းများ စိတ်လက်အပန်းပြေစေရေးအတွက် အပန်းဖြေခရီးစီစဉ်ပေးခြင်း၊ လုပ်သက် ဆုကြေး ချီးမြှင့်ခြင်း၊ ဝန်ထမ်းများ၏ကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းများ ထားရှိပေး သွားမည် ဖြစ်ပြီး ဆေးကုသရေးနှင့် လိုအပ်သောဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓာတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူဆောင်ရွက်သွားမည်ဖြစ်ပြီး မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ Great Timber World Company Limitedမှ နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ်ထားရှိပြီး ပညာရေး၊ ကျန်းမာရေး ၊ လမ်းပမ်းဆက်သွယ်ရေး၊ လူမှုရေးနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းများအတွင် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ သစ်ကုန်ကြမ်းရယူသုံးစွဲမည့်နည်းလမ်းများနှင့် စပ်လျဉ်း၍ လိုအပ်သော သစ်ကုန်ကြမ်းများကို မြန်မာ့သစ်လုပ်ငန်းမှ လေလံတင်ရောင်းချသည့် သစ်များ၊ သစ်လုပ်ငန်းမှ တရားဝင်သစ် ဝယ်ယူရရှိထားသည့် သစ်လုပ်ငန်းရှင်များ၊ သစ်ထုတ်လုပ်ခွင့်ရရှိထားသည့် လုပ်ငန်းရှင်များထံမှ ဝယ်ယ ဖူဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သစ်ကုန်ကြမ်းရေရှည် စီမံချက်အဖြစ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောဝန်ကြီးဌာနမှ သစ်တောစိုက်ခင်းမြေရရှိရေး ဦးစားပေးဆောင်ရွက် သွားမည်ဖြစ်ပြီး သစ်တောစိုက်ခင်း ဧက (၅၀၀၀) စိုက်ပျိုးရေးအတွက် စီမံချက်ချဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၃၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်Great Timber World Co., Ltd.(ဂရိတ်(ထ်) တင်း(မ်)ဘား ဝါး (လ်ဒ် ကုမ္ပဏီ လီမိတက်) မှ နိုင်ငံတကာ အဆင့်မီသစ်စက် တည်ထောင်ပြီး အရည်အသွေးမြင့်

သစ်ခွဲသား မျိုးစုံ ထုတ်လုပ်၍ ပြည်ပတင်ပို့ခြင်းနှင့် ပြည်တွင်း ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ